




# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ...၇၈၉................ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးဌေးမြင့်

(ခ) အဘအမည် ........ ဦးစွမ်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂/လမတ (နိုင်) ၀၀၉၉၆၀

(ဃ) နေရပ်လိပ်စာ ........ အမှတ် (၁၃၀)၊ ရွှေဂုံတိုင်လမ်း၊ ယုဇနစင်တာ၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ ယုဇနဘိလပ်မြေစက်မှုလုပ်ငန်းများ လီမိတက် ( Yuzuna Cement Industries Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ တစ်နေ့ တန် (၂၀၀၀) ကျ ဘိလပ်မြေစက်ရုံ တည်ဆောက်၍ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ ပြင်းငယ်ကျေးရွာ၊ မြိတ်မြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၁၉၀၀၈.၈၀ (သန်း) (အမေရိကန်ဒေါ်လာ (၅၇.၃၀) သန်း အပါအဝင် စုစုပေါင်း ကျပ်တစ်သောင်းကိုးထောင် ရှစ်သန်း၊ ရှစ်သိန်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊၂၈ / ၂၀၁၁(မနသ)
ရန်ကုန်မြို့၊ ၁၃၇၂ ခုနှစ်၊ တပို့တွဲလဆန်း ၁၄ ရက်
(၂၀၁၁ ခုနှစ် ၊ဖေဖော်ဝါရီ လ ၁၇ ရက်)

၁။ မြန်မာကုမ္ပဏီ ဖြစ်သော ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာဒေသရှိ မြေ(၇၀၀)ဧကတွင် တစ်နေ့လျှင်တန်(၂၀၀၀)ကျ စက်ရုံတည်ဆောက်၍ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အမှတ်(၁) စက်မှုဝန်ကြီးဌာန၏ ထောက်ခံချက်ဖြင့် အဆိုပြု တင်ပြချက်အား(၂၈-၁၀-၂၀၁၀)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ (၃၆ / ၂၀၁၀) အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ ကော်မရှင် မှ စိစစ်ခဲ့ပြီး (၁၉-၁-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေးမှ သဘော တူညီချက်အရ(၃-၂-၂၀၁၁) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စု မြန်မာ နိုင်ငံတော် အစိုးရအဖွဲ့(၅/၂၀၁၁)၏ အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာ နိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်း ထားသော လုပ်ပိုင်ခွင့်များ ကို ကျင့်သုံးလျှက် ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.) အား တစ်နေ့လျှင်တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက် ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၇၈၉/၂၀၁၁ ကို ထုတ်ပေး လိုက် သည်။

၂။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစား ခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြ လျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်း အထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေ အနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ် သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြ လျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ် ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိ နိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန် ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး ၍ ပထမ(၃)နှစ်အတွက် ပြည်ပမှတင်သွင်း သည့် လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့်(ဈ) အရ ပြည်ပမှ တင်သွင်း သည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import ) ဥပမာ- ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ Account Transfer ဖြင့် ရယူခြင်း စသည်တို့ကို ဖော်ပြရန်၊

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့်

စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှု ဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထား၍ ဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၇။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့် အညီ ဤကော်မရှင် သို့ သီးခြားတင်ပြ လျှောက်ထားရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေး အတွက် အဆိုပြုချက်တွင် တင်ပြထား သည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၈။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ပတ်ဝန်းကျင် ညစ်ညမ်းမှု ဖြစ်ပေါ်၍ တိုင်ကြားလာပါက စက်ရုံ ပိတ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၉။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.) သည် ပုဂ္ဂလိကစက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/ တိုင်း စက်မှု ကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက် ရမည်။

လျှို့ဝှက်

၄

၁၀။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ/ အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြုလုပ်ငန်း ၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး(တစ်)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် မတည်ငွေရင်း ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ(ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့်တယ်လီဖုန်းနံပါတ်) တို့ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင် သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီး ဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များ ကို လိုက်နာမှု မရှိ ကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်းခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၉၉ / ၂၀၁၁( ၂၄၀၉ )

ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၇ ရက်။

လျှို့ဝှက်

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ တနင်္သာရီတိုင်းဒေသကြီး၊ အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေး ကောင်စီရုံး၊ မြိတ်မြို့။
၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အဖွဲ့ဝင်များ။
၆။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၇။ သတ္တုတွင်းဝန်ကြီးဌာန။
၈။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၉။ စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ အလုပ်သမား ဝန်ကြီးဌာန။
၁၁။ ပြည်ထဲရေး ဝန်ကြီးဌာန။
၁၂။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၃။ ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာန။
၁၄။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည် ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့။ (ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ကျွေထည်မြေထည်လုပ်ငန်း။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)သတ္တုတွင်းလုပ်ငန်း။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၄။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။
၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၇။ ဥက္ကဋ္ဌ၊ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။
၂၈။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)

# ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| ၁။ | လုပ်ငန်းအဆိုပြုသူ၏ အမည် | ဦးဌေးမြင့် | ဦးတေဇ | ဦးအောင်ကိုဝင်း | ဦးအောင်ဇော်နိုင် |
| ၂။ | တည်နေရာ | တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာဒေသ။ | မန္တလေးတိုင်းဒေသကြီး၊ သာစည်မြို့နယ်၊ ပြည်ညောင်ကျေးရွာ အနီး။ | ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်၊ နန့်စီကျေးရွာ အနီး။ | မန္တလေးတိုင်းဒေသကြီး၊ သာစည်မြို့နယ်၊ ပြည်ညောင်ကျေးရွာ အနီး။ |
| ၃။ | မြေအကြောင်းအရာနှင့် မြေအကျယ်အဝန်း | ၇၀၀ ဧက<br>မြိတ်မြို့နယ် မြေစာရင်း ဦးစီးဌာနမှ ဦးဌေးမြင့် အမည်ဖြင့် (၁၂၀၀) ဧက အသုံးပြုခွင့် ပေးထားသော မြေ စာရင်းပုံစံ ၁၀၅ တင်ပြထားပါသည်။ | ၁၇၃ ဧက<br>ကုမ္ပဏီအမည်ဖြင့် အသုံးပြုခွင့် ရရှိထားသောမြေ။<br>လန - ၃၉ မြေ ရရှိပြီး | ၇၂၈ ဧက<br>ကုမ္ပဏီ အမည်ဖြင့် လန (၃၉) ရရှိရန် ဆောင်ရွက်လျှက် ရှိကြောင်း တင်ပြ ထားပါသည်။<br>လန - ၃၉ မြေ | ၄၄၀ ဧက<br>ကုမ္ပဏီအမည်ဖြင့် လန (၃၉) ရရှိရန် လျှောက်ထားဆဲ ဖြစ်ပါသည်။ |
| ၄။ | အဆိုပြုလုပ်ငန်း အမျိုးအစား | တစ်ရက် တန် (၂၀၀၀) ကျ ဘိလပ် မြေ ထုတ်လုပ်ခြင်း လုပ်ငန်း | တစ်ရက် တန် (၁၀၀၀) ကျ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း | တစ်ရက် တန် (၁၀၀၀)ကျ ဘိလပ် မြေ ထုတ်လုပ်ခြင်း လုပ်ငန်း | တစ်ရက် တန် (၂၀၀၀) ကျ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | စုစုပေါင်းရင်းနှီး မြှုပ်နှံမှု | ကျပ် ၁၉၀၀၈.၈၀ သန်း (US$ ၅၇.၃၀ သန်းအပါအဝင်) | ကျပ် ၂၅၂၁၀.၁၈ သန်း (US$ ၂၆.၅၃သန်းအပါအဝင် | ကျပ် ၂၂၀၅၃.၉၅ သန်း (US$ ၁၈.၀၀သန်း အပါအဝင်) | ကျပ် ၅၉၉၆၅.၂၈ သန်း (US$ ၄၉.၅၅ သန်းအပါအဝင်) |
| ၆။ | စက်ပစ္စည်းဝယ်ယူမှု | - စက်ပစ္စည်းများ US$(၄၆.၀၀) သန်းဖိုးကို စင်ကာပူနိုင်ငံရှိ Temptech Private Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်း MOU တင်ပြထားပါသည်။ | - စက်ပစ္စည်း US$ (၂၆.၅၃) သန်းဖိုး ကို တရုတ် ပြည်သူ့သမ္မတ နိုင်ငံရှိ Northern Heavy Industries Group Co., Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ | - စက်ပစ္စည်း US$ ( ၁၆.၃၀ ) သန်းဖိုး ကို ထိုင်းနိုင်ငံ LV Technology Public Co., Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်း၊ စက်တန်ဖိုးကို စက်ပစ္စည်းများ တပ်ဆင်ပြီး စက် စမ်းသပ်လည်ပတ်၍ ကုန်ပစ္စည်းများ စတင် | - စက်ပစ္စည်း US$ (၄၉.၅၅) သန်းဖိုး အနက် သတ္တုတူးဖော်ခြင်း ဆိုင်ရာ စက်ပစ္စည်းများကို ဂျာမဏီနိုင်ငံမှ လည်းကောင်း၊ ဘိလပ်မြေစက်ရုံ အတွက် စက်ပစ္စည်း များကို တရုတ်ပြည်သူ့ |

## ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဥ်တင်ပြခြင်း

| စဥ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| | | | | ထုတ်လုပ်နိုင်သည့်အချိန်မှစတင် ပေးဆပ်ရန် ညှိနှိုင်း သဘောတူညီထားပါ ကြောင်း လက်မှတ်ရေးထိုးချုပ်ဆိုထားသည့် စာချုပ်ကို တင်ပြထားပါသည်။ သို့ဖြစ်ပါ၍ စက်တန်ဖိုးကို စက် စမ်းသပ်လည်ပတ်ပြီး ထုတ်လုပ်နိုင်သည့် အချိန်မှသာ စတင်ပေးဆပ်ခွင့်ပြုပါရန် တင်ပြထားပါသည်။ | သမ္မတ နိုင်ငံမှ လည်းကော[illegible] ဝယ်ယူမည် ဖြစ်ပါသည်။ |
| ၃။ | ကုန်ကြမ်းရယူ အသုံးပြုမှု | - ထုံးကျောက်ကိုသာရဘွင်ဒေသ (မြိတ်မြို့နယ်)မှ ရယူမည်ဖြစ်ကြောင်း၊<br>- ကျောက်မီးသွေး ကို တနင်္သာရီမြစ် အနောက်ဘက်ကမ်း အနီးရှိ ကော့မပြင်း၊ သူဌေးနှင့် မောတောင်ဒေသမှ ဝယ်ယူမည် ဖြစ်ကြောင်း၊<br>- ဂေါ်ဒန်ကျောက် ကို အရှူးချောင်းဖျားနှင့် မန်ဆာဆု ချောင်း ဝန်းကျင် (ထားဝယ် မြို့နယ်)မှ ဝယ်ယူမည် ဖြစ်ကြောင်း၊ | - ထုံးကျောက် ကို သတ္တုတွင်းဝန်ကြီးဌာနမှ ရယူမည် ဖြစ်ကြောင်း၊ သတ္တုတွင်းဝန်ကြီးဌာန၏ ခါတ်သတ္တု အကြီးစား ထုတ်လုပ်ခွင့် ခွင့်ပြုမိန့် တင်ပြထားပါသည်။<br>- ကျောက်မီးသွေး ကို ကလေးဝမှ ဝယ်ယူမည် ဖြစ်ကြောင်း၊<br>- ဂေါ်ဒန် ကျောက် ကို သီပေါမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ | - ထုံးကျောက်ကို တောင်ကြီးမြို့နယ် နန့်စီကျေးရွာ အုပ်စုမှ ထုတ်လုပ်ခွင့်ပြုရန် သတ္တုတွင်း ဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာန သို့ လျှောက်ထားသည်မှာ မှန်ကန် ကြောင်း ထောက်ခံစာတင်ပြထား ပါ သည်။<br>- ကျောက်မီးသွေး လောင်စာအတွက် နန့်စီမြို့နယ်၊ လွိုင်ယဲ ကျေးရွာ အုပ်စုတွင် လုပ်ကွက်(၃)ကွက်၊ ဝမ်ပုံကျေးရွာ အုပ်စုတွင် လုပ်ကွက် (၂)ကွက်၊ အမှတ်(၅) အုပ်စုတွင် လုပ်ကွက်(၁)ကွက် တို့ | - ထုံးကျောက် ကို မန္တလေးတိုင်း၊ သာစည်မြို့နယ်၊ပြည်ညောင်ဒေသ၊ ကူပြင် ကျေးရွာ၊ ကျောက်ခတ်တောင်မှ ရယူမည် ဖြစ်ကြောင်း၊<br>- ကျောက်မီးသွေးကို ကလေးဝမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ ဂေါ်ဒန်ကျောက်ကို သီပေါနှင့်မောက်မယ်မှ ဝယ်ယူမည် ဖြစ်ကြောင်း၊<br>- သံကျောက် ကို ဟဲပုံးဒေသ အင်းတောင်း ကျေးရွာ အနီးမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ တင်ပြထားပါသည်။ |

Table Cement.doc

# ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည့်ပြည့်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| | | - သံကျောက်ကို ကျွန်းစုမြို့နယ်၊ကုလားကျွန်း၊ မစမ်းပါးကျွန်း၊ လင်မလိုကျွန်းမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ | - သံကျောက် ကို မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင် မြို့နယ်၊ အင်းယားဒေသမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ မြေစေး အား စက်ရုံအနီးတဝိုက်မှ ထုတ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ | တွင် ထုတ်လုပ်ခွင့်ပြုရန် သတ္တုတွင်း ဝန်ကြီးဌာန၊ သတ္တုတွင်း ဦးစီးဌာနသို့ လျှောက်ထားသည်မှာ မှန်ကန်ကြောင်း ထောက်ခံစာ တင်ပြထား ပါသည်။<br>- ဂေါ်ဒန်ကျောက် အား မောက်မယ်မြို့နယ်၊ နန့်လွတ်ရွာအနီးမှ လည်းကောင်း၊ သံအောက်ဆိုဒ် အား စက်ရုံအနီးရှိ အမှတ်(၅) သံမဏိ စက်ရုံ စွန့်ပစ်ပစ္စည်းများမှ လည်းကောင်း၊ ရွှံ့စေးမြေ အား စက်ရုံတည်နေရာ မှ သုံးမိုင်ခန့် အကွာ နေောင်ဘုတ်မှ ဝယ်ယူခြင်း ဖြင့်လည်းကောင်း၊ ရယူ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ | |
| ၈။ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | ၆၀၀၀၀၀ (တန်) | ၂၄၀,၀၀၀ (တန်) | ၃၀၀,၀၀၀ (တန်) | ၆၀၀,၀၀၀ (တန်) |
| ၉။ | ပြည်တွင်း ရောင်းဈေးနှုန်း | ၉၀၀၀၀ (ကျပ် /တန်) | ၁၁၅၀၀၀ (ကျပ် /တန်) | ၁၁၂၀၀၀ (ကျပ် /တန်) | ၈၀၀၀၀ (ကျပ် /တန်) |

## ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၁၈၄၉.၇၄ သန်း<br>ကျပ် ၉၀၀၀.၀၀ သန်း | ကျပ် ၁၄၂၉.၄၀ သန်း<br>ကျပ်၄၂၁၆.၆၇ သန်း | ကျပ် ၆၀၈.၀၀ သန်း<br>ကျပ် ၆၇၂၀.၀၀ သန်း | ကျပ် ၁၇၇၁.၈၉ သန်း<br>ကျပ် ၉၆၀၀.၀၀ သန်း |
| ၁၁။ | လုပ်သားအင်အား<br>- ပြည်တွင်း<br>- ပြည်ပ | ၇၀၀ ဦး<br>၅၀ ဦး | ၆၄၀ ဦး<br>၁၈ ဦး | ၄၉၇ ဦး<br>၁၅ ဦး | ၈၀၅ ဦး<br>၁၀ ဦး |
| ၁၂။ | ကုန်သွယ်မှုမူဝါဒ ကောင်စီအစည်းအဝေး အကြိမ်နှင့်ဆုံးဖြတ်ချက် | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့် ပြုကြောင်း ဆုံးဖြတ်ပါသည်။ | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့် ပြုကြောင်း ဆုံးဖြတ်ပါသည်။ |

၂၈/၁/၁၁

အတွင်းရေးမှူး (ကိုယ်စား)
(သီတာမြင့်၊ ညွှန်ကြားရေးမှူး)

## ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| ၁။ | လုပ်ငန်းအဆိုပြုသူ၏ အမည် | ဦးဌေးမြင့် | ဦးတေဇ | ဦးအောင်ကိုဝင်း | ဦးအောင်ဇော်နိုင် |
| ၂။ | တည်နေရာ | တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာဒေသ။ | မန္တလေးတိုင်းဒေသကြီး၊ သာစည်မြို့နယ်၊ ပြည်ညောင်ကျေးရွာ အနီး။ | ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်၊ နန့်စီကျေးရွာ အနီး။ | မန္တလေးတိုင်းဒေသကြီး၊ သာစည်မြို့နယ်၊ ပြည်ညောင်ကျေးရွာ အနီး။ |
| ၃။ | မြေအကြောင်းအရာနှင့် မြေအကျယ်အဝန်း | ၇၀၀ ဧက<br>မြိတ်မြို့နယ် မြေစာရင်း ဦးစီးဌာနမှ ဦးဌေးမြင့် အမည်ဖြင့် (၁၂၀၀) ဧက အသုံးပြုခွင့် ပေးထားသော မြေ စာရင်းပုံစံ ၁၀၅ တင်ပြထားပါသည်။ | ၁၇၃ ဧက<br>ကုမ္ပဏီအမည်ဖြင့် အသုံးပြုခွင့် ရရှိထားသောမြေ။<br>လန - ၃၉ မြေ ရရှိပြီး | ၇၂၈ ဧက<br>ကုမ္ပဏီ အမည်ဖြင့် လန (၃၉) ရရှိရန် ဆောင်ရွက်လျှက် ရှိကြောင်း တင်ပြ ထားပါသည်။<br>လန - ၃၉ မြေ | ၄၄၀ ဧက<br>ကုမ္ပဏီအမည်ဖြင့် လန (၃၉) ရရှိရန် လျှောက်ထားဆဲ ဖြစ်ပါသည်။ |
| ၄။ | အဆိုပြုလုပ်ငန်း အမျိုးအစား | တစ်ရက် တန် (၂၀၀၀) ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း | တစ်ရက် တန် (၁၀၀၀) ကျ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း | တစ်ရက် တန် (၁၀၀၀)ကျ ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်း | တစ်ရက် တန် (၂၀၀၀) ကျ ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်း |
| ၅။ | စုစုပေါင်းရင်းနှီး မြှုပ်နှံမှု | ကျပ် ၁၉၀၀၈.၈၀ သန်း<br>(US$ ၅၇.၃၀ သန်းအပါအဝင်) | ကျပ် ၂၅၂၁၀.၁၈ သန်း<br>(US$ ၂၆.၅၃သန်းအပါအဝင် | ကျပ် ၂၂၀၅၃.၉၅ သန်း<br>(US$ ၁၈.၀၀သန်း အပါအဝင်) | ကျပ် ၅၉၉၆၅.၂၈ သန်း (US$ ၄၉.၅၅ သန်းအပါအဝင်) |
| ၆။ | စက်ပစ္စည်းဝယ်ယူမှု | - စက်ပစ္စည်းများ US$(၄၆.၀၀) သန်းဖိုးကို စင်ကာပူနိုင်ငံရှိ Temptech Private Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်း MOU တင်ပြထားပါသည်။ | - စက်ပစ္စည်း US$ (၂၆.၅၃) သန်းဖိုး ကို တရုတ် ပြည်သူ့သမ္မတ နိုင်ငံရှိ Northern Heavy Industries Group Co., Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ | - စက်ပစ္စည်း US$ ( ၁၆.၃၀ ) သန်းဖိုး ကို ထိုင်းနိုင်ငံ LV Technology Public Co., Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်း၊ စက်တန်ဖိုးကို စက်ပစ္စည်းများ တပ်ဆင်ပြီး စက် စမ်းသပ်လည်ပတ်၍ ကုန်ပစ္စည်းများ စတင် | - စက်ပစ္စည်း US$ (၄၉.၅၅) သန်းဖိုး အနက် သတ္တုတူးဖော်ခြင်း ဆိုင်ရာ စက်ပစ္စည်းများကို ဂျာမဏီနိုင်ငံမှ လည်းကောင်း၊ ဘိလပ်မြေစက်ရုံ အတွက် စက်ပစ္စည်း များကို တရုတ်ပြည်သူ့ |

## ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှု လုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| | | | | ထုတ်လုပ်နိုင်သည့်အချိန်မှစတင်ပေးဆပ်ရန် ညှိနှိုင်း သဘောတူညီထားပါ ကြောင်း လက်မှတ်ရေးထိုးချုပ်ဆိုထားသည့် စာချုပ်ကို တင်ပြထားပါသည်။ သို့ဖြစ်ပါ၍ စက်တန်ဖိုးကို စက် စမ်းသပ်လည်ပတ်ပြီး ထုတ်လုပ်နိုင်သည့် အချိန်မှသာ စတင်ပေးဆပ်ခွင့်ပြုပါရန် တင်ပြထားပါသည်။ | သမ္မတ နိုင်ငံမှ လည်းကောင်း ဝယ်ယူမည် ဖြစ်ပါသည်။ |
| ၇။ | ကုန်ကြမ်းရယူ အသုံးပြုမှု | - ထုံးကျောက်ကိုသာရဘွင်ဒေသ (မြိတ်မြို့နယ်)မှ ရယူမည်ဖြစ်ကြောင်း၊<br>- ကျောက်မီးသွေး ကို တနင်္သာရီမြစ်အနောက်ဘက်ကမ်း အနီးရှိ ကော့မပြင်း၊ သူရွှေးနှင့် မောတောင်ဒေသမှ ဝယ်ယူမည် ဖြစ်ကြောင်း၊<br>- ဂေါ်ဒန်ကျောက် ကို အရှူးချောင်းဖျားနှင့် မန်ဆာဆု ချောင်း ဝန်းကျင် (ထားဝယ် မြို့နယ်)မှ ဝယ်ယူမည် ဖြစ်ကြောင်း၊ | - ထုံးကျောက် ကို သတ္တုတွင်းဝန်ကြီးဌာနမှ ရယူမည် ဖြစ်ကြောင်း၊ သတ္တုတွင်းဝန်ကြီးဌာန၏ ဓါတ်သတ္တု အကြီးစား ထုတ်လုပ်ခွင့် ခွင့်ပြုမိန့် တင်ပြထားပါသည်။<br>- ကျောက်မီးသွေး ကို ကလေးဝမှ ဝယ်ယူမည် ဖြစ်ကြောင်း၊<br>- ဂေါ်ဒန် ကျောက် ကို သီပေါမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ | - ထုံးကျောက်ကို တောင်ကြီးမြို့နယ် နန့်စီကျေးရွာ အုပ်စုမှ ထုတ်လုပ်ခွင့်ပြုရန် သတ္တုတွင်း ဝန်ကြီးဌာန၊ သတ္တုတွင်းဦးစီးဌာန သို့ လျှောက်ထားသည်မှာ မှန်ကန် ကြောင်း ထောက်ခံစာတင်ပြထား ပါ သည်။<br>- ကျောက်မီးသွေး လောင်စာအတွက် နန့်စီမြို့နယ်၊ လွိုင်ယဲ ကျေးရွာ အုပ်စုတွင် လုပ်ကွက်(၃) ကွက်၊ ဝမ်ပုံကျေးရွာ အုပ်စုတွင် လုပ်ကွက် (၂)ကွက်၊ အမှတ်(၅) အုပ်စုတွင် လုပ်ကွက်(၁)ကွက် တို့ | - ထုံးကျောက် ကို မန္တလေးတိုင်း၊ သာစည်မြို့နယ်၊ပြည်ညောင်ဒေသ ၊ ကူပြင် ကျေးရွာ၊ ကျောက်ခတ်တောင်မှ ရယူမည် ဖြစ်ကြောင်း၊<br>- ကျောက်မီးသွေးကို ကလေးဝမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ ဂေါ်ဒန်ကျောက်ကို သီပေါနှင့်မောက်မယ်မှ ဝယ်ယူမည် ဖြစ်ကြောင်း၊<br>- သံကျောက် ကို ဟဲဟိုးဒေသ အင်းတောင်း ကျေးရွာ အနီးမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ တင်ပြထားပါသည်။ |

## ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| | | - သံကျောက်ကို ကျွန်းစုမြို့နယ်၊ကိုလား ကျွန်း၊ မစမ်းပါးကျွန်း၊ လင်မလိုကျွန်း မှ ဝယ်ယူမည် ဖြစ်ကြောင်း၊ | - သံကျောက် ကို မန္တလေးတိုင်း ဒေသကြီး၊ ပြင်ဦးလွင် မြို့နယ်၊ အင်းယားဒေသမှ ဝယ်ယူမည် ဖြစ်ကြောင်း၊ မြေစေး အား စက်ရုံ အနီးတဝိုက်မှ ထုတ်ယူမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ | တွင် ထုတ်လုပ်ခွင့်ပြုရန် သတ္တုတွင်း ဝန်ကြီးဌာန၊ သတ္တုတွင်း ဦးစီးဌာနသို့ လျှောက်ထားသည်မှာ မှန်ကန်ကြောင်း ထောက်ခံစာ တင်ပြထား ပါသည်။<br>- ဂေါ်ဒန်ကျောက် အား မောက်မယ်မြို့နယ်၊ နန့်လွတ်ရွာအနီးမှ လည်းကောင်း၊ သံအောက်ဆိုဒ် အား စက်ရုံအနီးရှိ အမှတ်(၅) သံမဏိစက်ရုံ စွန့်ပစ်ပစ္စည်းများမှ လည်းကောင်း၊ ရွှံ့စေးမြေ အား စက်ရုံ တည်နေရာ မှ သုံးမိုင်ခန့် အကွာ နောင်ဘုတ်မှ ဝယ်ယူခြင်း ဖြင့်လည်းကောင်း၊ ရယူ ဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ | |
| ၈။ | ထုတ်လုပ်မှု (ပုံမှန်နှစ်) | ၆၀၀၀၀၀ (တန်) | ၂၄၀,၀၀၀ (တန်) | ၃၀၀,၀၀၀ (တန်) | ၆၀၀,၀၀၀ (တန်) |
| ၉။ | ပြည်တွင်း ရောင်းဈေးနှုန်း | ၉၀၀၀၀ (ကျပ် /တန်) | ၁၁၅၀၀၀ (ကျပ် /တန်) | ၁၁၂၀၀၀ (ကျပ် /တန်) | ၈၀၀၀၀ (ကျပ် /တန်) |

## ဘိလပ်မြေစက်ရုံများ၏ လုပ်ငန်းစီမံကိန်းဆိုင်ရာ အဓိကအချက်များအား နှိုင်းယှဉ်တင်ပြခြင်း

| စဉ် | ကုမ္ပဏီအမည် | ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် | ထူးအပြည်ပြည်ဆိုင်ရာ စက်မှုလုပ်ငန်းစု ကုမ္ပဏီလီမိတက် | ကမ္ဘောဇ စက်မှုလုပ်ငန်းများ ကုမ္ပဏီလီမိတက် | ရွှေတောင်ဘိလပ်မြေ ကုမ္ပဏီလီမိတက် |
|---|---|---|---|---|---|
| ၁၀။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>- ဝင်ငွေခွန်<br>- ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၁၈၄၉.၇၄ သန်း<br>ကျပ် ၉၀၀၀.၀၀ သန်း | ကျပ် ၁၄၂၉.၄၀ သန်း<br>ကျပ်၄၂၁၆.၆၇ သန်း | ကျပ် ၆၀၈.၀၀ သန်း<br>ကျပ် ၆၇၂၀.၀၀ သန်း | ကျပ် ၁၇၇၁.၈၉ သန်း<br>ကျပ် ၉၆၀၀.၀၀ သန်း |
| ၁၁။ | လုပ်သားအင်အား<br>- ပြည်တွင်း<br>- ပြည်ပ | ၇၀၀ ဦး<br>၅၀ ဦး | ၆၄၀ ဦး<br>၁၈ ဦး | ၄၉၇ ဦး<br>၁၅ ဦး | ၈၀၅ ဦး<br>၁၀ ဦး |
| ၁၂။ | ကုန်သွယ်မှုမူဝါဒ ကောင်စီအစည်းအဝေး အကြိမ်နှင့်ဆုံးဖြတ်ချက် | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့် ပြုကြောင်း ဆုံးဖြတ်ပါသည်။ | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | (၂/ ၂၀၁၁) (၁၉-၁-၂၀၁၁)<br>- လုပ်ငန်း ဆောင်ရွက်ခွင့် ပြုကြောင်း ဆုံးဖြတ်ပါသည်။ |

၂၉/၁/၁၁

အတွင်းရေးမှူး (ကိုယ်စား)
(သီတာမြင့်၊ ညွှန်ကြားရေးမှူး)

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ်(၃၂)၊နေပြည်တော်

ဖက်(စ)-၉၅-၆၇-၄၀၆၃၃၃

ဖုန်း-၀၆၇-၄၀၆၁၃၉၊ ၄၀၆၁၆၁

စာအမှတ်၊ ရက- ၆(ခ) /မ- ၁၅၀၉/၂၀၁၁ ( ၁၂၉၅ )၊

ရက်စွဲ၊၂၀၁၁ ခုနှစ်၊ ဇန်နဝါရီ လ ၂၈ ရက်။

အကြောင်းအရာ။ ။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ အထက် အကြောင်းအရာပါ ကိစ္စ နှင့်စပ်လျဉ်း၍ ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြပေးပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ( ၂၈- ၁ -၂၀၁၁) ရက်စွဲပါ စာအမှတ် ၊ ရက- ၆(ခ) / မ- ၁၅၀၉/ ၂၀၁၁( ၁၂၈၇ ) ၏ မိတ္တူ စောင်ရေ (၅)စောင် ကို ပူးတွဲပေးပို့အပ်ပါသည်။

(signature)

ဦးကျော်ဌေး(ကိုယ်စား)
(သူရိန်ဇော်၊ အတွင်းရေးမှူး)

အတွင်းရေးမှူး
ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့

မိတ္တူ-
ရုံးလက်ခံ/မျှောစာတွဲ။

လျှို့ဝှက်

အခြားကိစ္စရပ်များ(          /၂၀၁၁)
(    - ၁ -၂၀၁၁ /              နေ့)

| စဉ် | ဝန်ကြီးဌာန | အကြောင်းအရာ | အစည်းအဝေး အမှတ်စဉ်/ရက်စွဲ |
|---|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု | ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။ | /၂၀၁၁ (    - ၁ -၂၀၁၁ ) |

လျှို့ဝှက်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-၁၅၀၉ / ၂၀၁၁ (၁၂၈၇)၊

**ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။**

**အကျဉ်းချုပ်။** ။ မြန်မာ ကုမ္ပဏီဖြစ်သော ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာ ဒေသရှိ (၇၀၀)ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် တစ်ရက်လျှင် တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဌေးမြင့် (အဘ-ဦးစွမ်)မှ အဆိုပြု တင်ပြလာပါသည်။ မြေအထောက်အထားအဖြစ် မြိတ်မြို့နယ်၊ မြေစာရင်း ဦးစီးဌာနမှ ဦးဌေးမြင့် အမည်ဖြင့် (၁၂၀၀) ဧက အသုံးပြုခွင့်ပေးထားသော မြေစာရင်း ပုံစံ(၁၀၅)ကို တင်ပြထားပါသည်။

တနင်္သာရီတိုင်းဒေသကြီးအတွင်း ပုဂ္ဂလိက စက်မှုကဏ္ဍ ဖွံ့ဖြိုးတိုးတက်စေရန် နှင့် ဒေသဖွံ့ဖြိုးရေးအတွက် အထောက်အကူဖြစ်စေရန် ယုဇနကုမ္ပဏီအဖွဲ့အား တနင်္သာရီတိုင်းဒေသကြီးတွင် ဘိလပ်မြေစက်ရုံ တည်ဆောက်ခွင့်ပြုထားကြောင်း အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံစာ နှင့် တနင်္သာရီတိုင်းဒေသကြီး အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီမှ ဘိလပ်မြေ စက်ရုံ တည်ဆောက်ရေး နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း အကြောင်းကြားစာတို့ကို တင်ပြထားပါသည်။

အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၉-၁-၂၀၁၁) နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေးမှ "လုပ်ငန်းဆောင်ရွက် ခွင့်ပြုကြောင်း" ဆုံးဖြတ်ချက်အရ အမှတ်(၁)စက်မှုဝန်ကြီးဌာနမှ ဆက်လက် တင်ပြလာခြင်းဖြစ်ပါသည်။

ဘိလပ်မြေထုတ်လုပ်ရာတွင် လိုအပ်သော ကုန်ကြမ်းများဖြစ်သည့် ထုံးကျောက်အား တနင်္သာရီမြို့နယ်၊ သာရဘွင်ဒေသမှ လည်းကောင်း၊ သံကျောက်အား ကျွန်းစုမြို့နယ်၊ ကုလားကျွန်း၊ မစမ်းပါးကျွန်း၊လင်မလိုကျွန်းဒေသများမှ လည်းကောင်း၊ ကျောက်မီးသွေးအား တနင်္သာရီမြို့နယ်၊ ကော့မပြင်း၊ သူဌေးနှင့်မောတောင်ဒေသမှ လည်းကောင်း၊ ဂေါ်ဒန်ကျောက်အား ထားဝယ်မြို့နယ်၊ အယူးချောင်းဖျားနှင့်မန်ဆာဆုချောင်းဝန်းကျင်ဒေသများမှ ပြည့်မီစွာ ထုတ် ယူနိုင်ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ သဘောထားပြန်ကြားထားပါသည်။

လုပ်ငန်းအတွက် ကုန်ကြမ်းများ ထုတ်လုပ်ခွင့် ရရှိရေး နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ဝန်ကြီး ဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း တနင်္သာရီ တိုင်း ဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အမှတ်(၁)စက်မှု ဝန်ကြီးဌာန နှင့် သတ္တုတွင်း ဝန်ကြီးဌာနသို့ အကြောင်းကြားစာများ တင်ပြထားပါသည်။

လုပ်ငန်း ဆောင်ရွက်ရန်အတွက် နေ့စဉ် လျှပ်စစ် ဓါတ်အား ယူနစ် (၇၂၀,၀၀၀) လိုအပ်မည် ဖြစ်ပါသည်။ လျှပ်စစ်ဓါတ်အား ရရှိရေးအတွက် ကိုယ်ပိုင် ကျောက်မီးသွေးသုံး လျှပ်စစ်ဓါတ်အားပေးစက်ကို အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၅၇.၃၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၉၀၀၈.၈၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း နှင့် လုပ်ငန်းသုံး ယာဉ်၊ ယန္တရားများကို ကိုယ်ပိုင် နိုင်ငံခြားငွေဖြင့် ပြည်ပမှတင်သွင်းမည် ဖြစ်ပါသည်။ စက်ပစ္စည်းများ US$(၄၆.၀၀)သန်းဖိုး ကို စင်ကာပူနိုင်ငံရှိ Temptech Private Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်း MOU တင်ပြထားပါ သည်။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းချေးငွေ ကျပ်(၈၅၀၀.၀၀) သန်း ကို မြန်မာ့မွေးမြူရေး နှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ် မှ တစ်နှစ်လျှင် အတိုးနှုန်း(၁၇%)ဖြင့် ချေးယူမည် ဖြစ်ပါသည်။

လုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ (၃)နှစ် ဖြစ်ပြီး ဘိလပ်မြေ ထုတ်လုပ်မည့် နည်းစနစ်မှာ အခြောက် ကြိတ်ခွဲရောစပ်နည်း စနစ် (Dry Process)ကို အသုံးပြုမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် ဘိလပ်မြေ (၆၀၀,၀၀၀)တန် ထုတ်လုပ်၍ တစ်တန်လျှင် (၉၀,၀၀၀) ကျပ်နှုန်းဖြင့် ပြည်တွင်း၌ ရောင်းချမည် ဖြစ်ပါသည်။

လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ်တွင် ဝင်ငွေ ကျပ်(၅၄၀၀၀)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ်ပေါ်နှုန်း (IRR)မှာ (၁၆)ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် ကျပ် (၁၈၄၉.၇၄) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၉၀၀၀.၀၀)သန်း ရရှိမည် ဖြစ်ပါသည်။

လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား(၇၀၀)ဦး ခန့်ထားမည်ဖြစ်ပြီး စက်ရုံ အလုပ်သမား နှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ကျန်းမာရေး၊ လူမှုဖူလုံရေးအပိုင်း၊ ခံစားခွင့်အပိုင်း၊ သက်သာချောင်ချိရေး အပိုင်းများကို စီစဉ် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ စက်တပ်ဆင် ကာလ နှင့် စက်စမ်းသပ် လည်ပတ်သည့် ကာလတွင် သင်တန်းပေးရန်အတွက် ပြည်ပမှ ကျွမ်းကျင်သူ နှင့် အတတ်ပညာရှင် (၅၀)ဦး လိုအပ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် မိခင် ကုမ္ပဏီဖြစ်သော ယုဇနကုမ္ပဏီ လီမိတက် ၏ နိုင်ငံခြားငွေနှင့် ပြည်တွင်းသုံးငွေများကို အသုံးပြုမည် ဖြစ်ကြောင်း၊ သုံးစွဲခွင့်ကို ဒါရိုက်တာများမှ သဘောတူကြောင်း နှင့် ယုဇန ကုမ္ပဏီ လီမိတက် အမည်ဖြင့် MICB ရှိ (၃-၉-၂၀၁၀) နေ့ ငွေလက်ကျန် US$ (၁၀.၂၃)သန်းနှင့် မြန်မာ့မွေးမြူရေး နှင့် ရေလုပ်ငန်း ဖွံ့ဖြိုး ရေးဘဏ်ရှိ (၉-၉-၂၀၁၀)နေ့ ငွေလက်ကျန် ကျပ်(၁၆၀.၈၇)သန်း ကို တင်ပြထားပါသည်။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့် ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်တွင် ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

၂၈/၁/၁၁

အတွင်းရေးမှူး(ကိုယ်စား)
(သီတာမြင့်၊ ညွှန်ကြားရေးမှူး)

ပြည်ထောင်စုမြန်မာနိုင်ငံတော်

**မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၆(ခ) / မ-၁၅၀၉ /၂၀၁၁( ၁၂ ၈၇ )၊

ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဇန်နဝါရီ လ ၂၈ ရက်။

**ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာဒေသ ရှိ (၇၀၀)ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် တစ်ရက်လျှင် တန်(၂၀၀၀)ကျ စက်ရုံတည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဌေးမြင့် (အဘ-ဦးစွမ်)မှ အဆိုပြု တင်ပြလာပါသည်။ မြေအထောက်အထားအဖြစ် မြိတ်မြို့နယ်၊ မြေစာရင်း ဦးစီးဌာနမှ ဦးဌေးမြင့် အမည်ဖြင့် (၁၂၀၀) ဧက အသုံးပြုခွင့် ပေးထားသော မြေစာရင်း ပုံစံ(၁၀၅)ကို တင်ပြထားပါသည်။

၂။ တနင်္သာရီတိုင်းဒေသကြီးအတွင်း ပုဂ္ဂလိက စက်မှုကဏ္ဍ ဖွံ့ဖြိုးတိုးတက်စေရန် နှင့် ဒေသ ဖွံ့ဖြိုးရေးအတွက် အထောက်အကူဖြစ်စေရန် ယုဇနကုမ္ပဏီအဖွဲ့အား တနင်္သာရီတိုင်းဒေသကြီး တွင် ဘိလပ်မြေစက်ရုံ တည်ဆောက်ခွင့်ပြုထားကြောင်း အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံစာ နှင့် တနင်္သာရီတိုင်းဒေသကြီး အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီမှ ဘိလပ်မြေ စက်ရုံ တည်ဆောက်ရေး နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း အကြောင်းကြားစာတို့ကို တင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်အား (၁၉-၁-၂၀၁၁) နေ့တွင် ကျင်းပပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၂/၂၀၁၁) အစည်းအဝေးမှ "လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း" ဆုံးဖြတ်ချက်အရ အမှတ်(၁)စက်မှုဝန်ကြီးဌာန မှ တင်ပြလာခြင်းဖြစ်ပါသည်။ နောက်ဆက်တွဲ(က)

၄။ ဘိလပ်မြေထုတ်လုပ်ရာတွင် လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို အောက်ပါဒေသ များမှ ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ကုန်ကြမ်းများကို အဆိုပါဒေသများမှ ပြည့်မီစွာ ထုတ်ယူနိုင်ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (ခ)

| ကုန်ကြမ်း အမျိုးအစား | ရယူမည့် ဒေသ |
|---|---|
| (က) ထုံးကျောက် | - တနင်္သာရီမြို့နယ်၊ သာရဘွင်ဒေသ |
| (ခ) သံကျောက် | - ကျွန်းစုမြို့နယ်၊ ကုလားကျွန်း မစမ်းပါးကျွန်း၊လင်မလိုကျွန်း |
| (ဂ) ကျောက်မီးသွေး | - တနင်္သာရီမြို့နယ်၊ ကော့မပြင်း၊ သူဌေးနှင့်မောတောင်ဒေသ |
| (ဃ) ဂေါ်ဒန်ကျောက် | - ထားဝယ်မြို့နယ်၊ အယူးချောင်းဖျားနှင့်မန်ဆာဆုချောင်းဝန်းကျင် |

၅။ လုပ်ငန်းအတွက် ကုန်ကြမ်းများ ထုတ်လုပ်ခွင့်ရရှိရေး နှင့်စပ်လျဥ်း၍ သက်ဆိုင်ရာ ဝန်ကြီးဌာန၏ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း တနင်္သာရီတိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီမှ အမှတ်(၁)စက်မှု ဝန်ကြီးဌာန နှင့် သတ္တုတွင်း ဝန်ကြီးဌာနသို့ အကြောင်းကြားစာများ တင်ပြထားပါသည်။

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် နေ့စဥ် လျှပ်စစ် ဓါတ်အား ယူနစ် (၇၂၀,၀၀၀) လိုအပ်မည် ဖြစ်ပါသည်။ လျှပ်စစ်ဓါတ်အား ရရှိရေးအတွက် ကိုယ်ပိုင် ကျောက်မီးသွေးသုံး လျှပ်စစ်ဓါတ်အားပေးစက်ကို အသုံးပြုမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ(ဂ) ဖြင့် တင်ပြထားပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၅၇.၃၀)သန်း အပါအဝင် စုစုပေါင်း ကျပ် (၁၉၀၀၈.၈၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်း နှင့် လုပ်ငန်းသုံး ယာဥ်၊ ယန္တရားများကို ကိုယ်ပိုင်နိုင်ငံခြားငွေဖြင့် ပြည်ပမှတင်သွင်းမည် ဖြစ်ပါသည်။ စက်ပစ္စည်းများ US$(၄၆.၀၀)သန်းဖိုး ကို စင်ကာပူနိုင်ငံရှိ Temptech Private Ltd. မှ ဝယ်ယူမည် ဖြစ်ကြောင်း MOU တင်ပြထားပါသည်။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းချေးငွေ ကျပ်(၈၅၀၀.၀၀) သန်း ကို မြန်မာ့ဓမ္မမြှုရေး နှင့် ရေလုပ်ငန်းဖွံ့ဖြိုးရေးဘဏ် မှ တစ်နှစ်လျှင် အတိုးနှုန်း(၁၇%)ဖြင့် ချေးယူမည် ဖြစ်ပါသည်။

၈။ လုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ (၃)နှစ် ဖြစ်ပြီး ဘိလပ်မြေ ထုတ်လုပ်မည့်နည်းစနစ်မှာ အခြောက် ကြိတ်ခွဲရောစပ်နည်း စနစ် (Dry Process)ကို အသုံးပြုမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် ဘိလပ်မြေ (၆၀၀,၀၀၀)တန် ထုတ်လုပ်၍ တစ်တန်လျှင် (၉၀,၀၀၀) ကျပ်နှုန်းဖြင့် ပြည်တွင်း၌ ရောင်းချမည် ဖြစ်ပါသည်။

၉။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ်တွင် ဝင်ငွေ ကျပ်(၅၄၀၀၀)သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၄)နှစ် နှင့် (၁၁)လ ဖြစ်ပြီး အရင်းအနှီး အပေါ် အကျိုးအမြတ်ပေါ်နှုန်း (IRR)မှာ (၁၆)ရာခိုင်နှုန်း ဖြစ်ပါသည်။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ဝင်ငွေခွန် ကျပ် (၁၈၄၉.၇၄) သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် (၉၀၀၀.၀၀)သန်း ရရှိမည် ဖြစ်ပါသည်။

၁၀။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းမှ လုပ်သား(၇၀၀)ဦး ခန့်ထားမည်ဖြစ်ပြီး စက်ရုံ အလုပ်သမား နှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ကျန်းမာရေး၊ လူမှုဖူလုံရေးအပိုင်း၊ ခံစားခွင့်အပိုင်း၊ သက်သာချောင်ချိရေး အပိုင်းများကို စီစဉ် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ စက်တပ်ဆင် ကာလ နှင့် စက်စမ်းသပ် လည်ပတ်သည့် ကာလတွင် သင်တန်းပေးရန်အတွက် ပြည်ပမှ ကျွမ်းကျင်သူ နှင့် အတတ်ပညာရှင် (၅၀)ဦး လိုအပ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ ငွေကြေးဆိုင်ရာ အထောက်အထားအဖြစ် မိခင်ကုမ္ပဏီဖြစ်သော ယုဇနကုမ္ပဏီ လီမိတက် ၏ နိုင်ငံခြားငွေနှင့် ပြည်တွင်းသုံးငွေများကို အသုံးပြုမည်ဖြစ်ကြောင်း၊ သုံးစွဲခွင့်ကို ဒါရိုက်တာများ မှ သဘောတူကြောင်း နှင့် ယုဇနကုမ္ပဏီလီမိတက် အမည်ဖြင့် MICB ရှိ (၃-၉-၂၀၁၀)နေ့ ငွေလက် ကျန် US$ (၁၀.၂၃)သန်းနှင့် မြန်မာ့မွေးမြူရေး နှင့် ရေလုပ်ငန်း ဖွံ့ဖြိုးရေး ဘဏ်ရှိ (၉-၉-၂၀၁၀)နေ့ ငွေလက်ကျန် ကျပ်(၁၆၀.၈၇)သန်း ကို တင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာ ပိုင်ဆိုင်သည့် ကုမ္ပဏီဖြစ်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်ခြင်း မရှိပါကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှုနှင့် မီးဘေး အန္တရာယ် မဖြစ်ပွားစေရန် လိုအပ်သော အစီအမံများ ပြုလုပ်ထားမည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု ထားပါသည်။

၁၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့် ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၄။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်တွင် ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်

ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၅။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရအဖွဲ့



ပြည်ထောင်စုမြန်မာနိုင်ငံတော်

နောက်ဆက်တွဲ (က)

# ကုန်သွယ်မှုမူဝါဒကောင်စီ

၂၀၁၁ခုနှစ်၊ ဇန်နဝါရီလ(၁၉)ရက်နေ့တွင် ကျင်းပသော ပြည်ထောင်စုမြန်မာနိုင်ငံတော် ကုန်သွယ်မှုမူဝါဒ ကောင်စီ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၁) မှတ်တမ်းကောက်နုတ်ချက်။

| အစည်းအဝေး အစီအစဉ် | စဉ် | ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|---|
| ၂၄-ဘ | ၆၀၅ | တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်တွင် ယုဇန ဘိလပ်မြေစက်မှုလုပ်ငန်းများလီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ပါသည်။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်။<br>အမှတ်(၁)စက်မှုဝန်ကြီးဌာန။ |






WWM /TTN 20-1-2011



လျှို့ဝှက်

၆

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

သတ္တုတွင်းဝန်ကြီးဌာန

**ဝန်ကြီးရုံး**

နေပြည်တော်

စာအမှတ်၊ ၁၅ ခွဲ (၂) ၁၀ ( ၄၈၅၈)

ရက်စွဲ ၊၂၀၁၀ ခုနှစ် ၊နိုဝင်ဘာလ ၃ ရက်

သို့

1-1784
4/11

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ယုဇနဘိလပ်မြေစက်မှုလုပ်ငန်းများလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာဒေသတွင် ဘိလပ်မြေစက်ရုံ တည်ဆောက်ရန် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉.၁၀.၂၀၁၀ရက်စွဲပါစာအမှတ်၊ ရက-၆ (က) /မ-၁၀၉၉/၂၀၁၀(၁၇၇၇၄)

၁။ ယုဇနဘိလပ်မြေစက်မှုလုပ်ငန်းများလီမိတက်မှတနင်္သာရီတိုင်းဒေသကြီး၊မြိတ်မြို့နယ်၊ပြင်းငယ်ကျေးရွာဒေသ မြေဧရိယာ(၇၀၀.၀၀)ဧကတွင် စက်ရုံတည်ဆောက်ပြီး ဘိလပ်မြေထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြသည့်အဆိုပြုချက်ပါ ဘိလပ်မြေထုတ်လုပ်ခြင်း လုပ်ငန်းတွင်နှစ်စဉ်အသုံးပြုမည့် ကုန်ကြမ်းများ(ကျောက်မီးသွေး၊ထုံးကျောက်၊ဂေါဒန်ကျောက်နှင့်သံကျောက်)တို့နှင့် ခပ်လျဉ်း၍ ဤဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ကော်မရှင်မှ ရည်ညွှန်းစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ ယုဇနဘိလပ်မြေစက်မှုလုပ်ငန်းများလီမိတက်မှ တည်ဆောက်မည့် ဘိလပ်မြေစက်ရုံ၏ တစ်နှစ်ကုန်ကြမ်း လိုအပ်ချက် လျာထားစာရင်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်- <u>ပူးတွဲ(၁,၂,၃,၄)</u>

| | | | |
|---|---|---|---|
| (က) | ထုံးကျောက် | (၉၉၀၀၀၀) | တန် |
| (ခ) | သံကျောက် | ( ၆၀၀၀) | တန် |
| (ဂ) | ကျောက်မီးသွေး | ( ၉၉၀၀၀) | တန် |
| (ဃ) | ဂေါဒန် | ( ၂၁၄၅၀၀) | တန် |
| (င) | မြေစေး | ( ၁၆၅၀၀) | တန် |

လျှို့ဝှက်

D:\User GEST\Join Venture\Joint venture csn.doc

၃။ အပိုဒ်(၂)ပါ လျာထားချက် ပြည့်မီစေရန်အတွက် အောက်ပါအတိုင်းဆောင်ရွက်သင့်ပါသည်-

(က) ထုံးကျောက်တစ်နှစ် လိုအပ်ချက် လျာထားတန်ချိန် (၉၉၀၀၀၀)တန်အား တန်ချိန်(၄၄.၂၆)သန်း ရှိသော တနင်္သာရီတိုင်းဒေသကြီး၊ တနင်္သာရီမြို့နယ်၊ သာရဘွင်၊ တလိုင်းတပ်၊ အလယ်တောင် ထုံးကျောက်သိုက်များမှ ပြည့်မီစွာထုတ်ယူနိုင်ပါသည်။

(ခ) သံကျောက်တန်ချိန် (၆၀၀၀)အား တန်ချိန်(၁.၈၉)သန်းရှိသော တနင်္သာရီတိုင်းဒေသကြီး၊ ကျွန်းစု မြို့နယ်၊ ကုလားကျွန်း၊ မစမ်းပါးကျွန်း၊ လင်မလိုကျွန်းမှ ပြည့်မီစွာထုတ်ယူနိုင်ပါသည်။

(ဂ) ကျောက်မီးသွေးတန်ချိန် (၉၉၀၀၀)အား တန်ချိန်(၂.၀၃)သန်းရှိသော တနင်္သာရီတိုင်းဒေသကြီး၊ တနင်္သာရီမြို့နယ်၊ ကော့မပြင်း၊ သူငွေး၊ ဟိန်းလတ်၊ သိန္ဒော၊ သိန်းပြည့်ဒေသမှ ပြည့်မီစွာထုတ်လုပ် နိုင်ပါသည်။

(ဃ) ဂေါဒန်ကျောက်တန်ချိန် (၂၁၄၅၀၀)အား တန်ချိန်(၆)သန်းရှိသော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်မြို့နယ်၊ အယူးချောင်းနှင့် မန်ဆာဆုချောင်းဝန်းကျင်မှ ပြည့်မီစွာထုတ်လုပ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ ယုဇနဘိလပ်မြေစက်မှုလုပ်ငန်းများလီမိတက်မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ် ကျေးရွာဒေသတွင် ဘိလပ်မြေစက်ရုံ တည်ဆောက်ရန် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စနှင့် ပတ်သက်၍ ညှိနှိုင်းပြန်ကြားအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
သတ္တုတွင်းဝန်ကြီးဌာန
(ဦးဝင်းထိန်၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို-

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)သတ္တုတွင်းလုပ်ငန်း

ပူးတွဲ(၁)

ယုဇနကုမ္ပဏီလီမိတက် ထုံးကျောက်လိုအပ်ချက်နှင့် ပတ်သက်၍
ထုံးကျောက်ထုတ်လုပ်မှုလုပ်ငန်း အဆိုပြုလွှာပါ အချက်အလက်အကျဉ်းချုပ်

| | | | |
|---|---|---|---|
| (၁) | တည်နေရာ | - | တနင်္သာရီတိုင်းဒေသကြီး၊ တနင်္သာရီမြို့နယ်၊ သာရဘွင်၊ တလိုင်းတပ်၊ အလယ်တောင် |
| (၂) | အကျယ်အဝန်း | - | (၄၄၀၀)ဧက |
| (၃) | ဓာတ်သတ္တုခွန် | - | (၃%) |
| (၄) | ထုတ်လုပ်မှုအပေါ်ခွဲဝေမှုအချိုး | - | (၃၀း၇၀) |
| (၅) | ထုံးကျောက်သိုက်ပမာဏ | - | (၄၄.၂၆)သန်း(တန်) |

ပူးတွဲ(၂)

ယုဇနကုမ္ပဏီလီမိတက် သံကျောက်လိုအပ်ချက်နှင့် ပတ်သက်၍

သံကျောက်ထုတ်လုပ်မှုလုပ်ငန်း အဆိုပြုလွှာပါ အချက်အလက်အကျဉ်းချုပ်

| | | | |
|---|---|---|---|
| (၁) | တည်နေရာ | - | တနင်္သာရီတိုင်းဒေသကြီး၊ကျွန်းစုမြို့နယ်၊ ကုလားကျွန်း၊မစမ်းပါးကျွန်း၊လင်မလိုကျွန်း |
| (၂) | အကျယ်အဝန်း | - | (၆၀၀)ဧက |
| (၃) | ဓာတ်သတ္တုခွန် | - | (၃%) |
| (၄) | ထုတ်လုပ်မှုအပေါ်ခွဲဝေမှုအချိုး | - | (၃၀း၇၀) |
| (၅) | သံကျောက်သိုက်ပမာဏ | - | (၁.၈၉)သန်း(တန်) |

ပူးတွဲ(၃)

## ယုဇနကုမ္ပဏီလီမိတက် ကျောက်မီးသွေးလိုအပ်ချက်နှင့် ပတ်သက်၍ ကျောက်မီးသွေးထုတ်လုပ်မှုလုပ်ငန်း အဆိုပြုလွှာပါ အချက်အလက်အကျဉ်းချုပ်

| | | | |
|---|---|---|---|
| (၁) | တည်နေရာ | - | တနင်္သာရီတိုင်း၊ တနင်္သာရီမြို့နယ်၊ ကော့မပြင်း၊ သဒ္ဓေး၊ ဟိန်းလတ်၊ သိန္နော၊ သိန်းပြည့်ဒေသ |
| (၂) | အကျယ်အဝန်း | - | (၄၈,၀၀၀)ဧက |
| (၃) | ဓာတ်သတ္တုခွန် | - | (၃%) |
| (၄) | ထုတ်လုပ်မှုအပေါ်ခွဲဝေမှုအချိုး | - | (၃၀း၇၀) |
| (၅) | ကျောက်မီးသွေးသိုက်ပမာဏ | - | (၂.၀၃)သန်း(တန်) |

ပူးတွဲ(၄)

ယုဇနကုမ္ပဏီလီမိတက် ဂေါဒန်ကျောက်လိုအပ်ချက်နှင့် ပတ်သက်၍
ဂေါဒန်ကျောက်ထုတ်လုပ်မှုလုပ်ငန်း အဆိုပြုလွှာပါ အချက်အလက်အကျဉ်းချုပ်

| | | | |
|---|---|---|---|
| (၁) | တည်နေရာ | - | တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်မြို့နယ်၊ အယူးချောင်းနှင့် မန်ဆာဆုချောင်းဝန်းကျင် |
| (၂) | အကျယ်အဝန်း | - | (၄၀၀)ဧက |
| (၃) | ဓာတ်သတ္တုခွန် | - | (၃%) |
| (၄) | ထုတ်လုပ်မှုအပေါ်ခွဲဝေမှုအချိုး | - | (၃၀း၇၀) |
| (၅) | ဂေါဒန်ကျောက်သိုက်ပမာဏ | - | (၆)သန်း(တန်) |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၆(ခ) / မ-၁၅၀၉ / ၂၀၁၁( ၄၇၇ )၊
ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဇန်နဝါရီ လ ၁၃ ရက်။

**ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ ယုဇနဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တစ်နေ့ တန်(၂၀၀၀)ကျ စက်ရုံ တည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာ ကုမ္ပဏီဖြစ်သော ယုဇန ဘိလပ်မြေ စက်မှုလုပ်ငန်းများ လီမိတက် (Yuzana Cement Industries Ltd.)မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်မြို့နယ်၊ ပြင်းငယ်ကျေးရွာဒေသ ရှိ (၇၀၀)ဧက အကျယ်အဝန်းရှိသော မြေပေါ်တွင် တစ်ရက်လျှင် တန်(၂၀၀၀)ကျ စက်ရုံတည်ဆောက်ပြီး ဘိလပ်မြေ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဌေးမြင့် (အဘ-ဦးစွမ်)မှ အဆိုပြု တင်ပြလာပါသည်။ မြေအထောက်အထားအဖြစ် မြိတ်မြို့နယ်၊ မြေစာရင်း ဦးစီးဌာနမှ ဦးဌေးမြင့် အမည်ဖြင့် (၁၂၀၀) ဧက အသုံးပြုခွင့် ပေးထားသော မြေစာရင်း ပုံစံ(၁၀၅)ကို တင်ပြထားပါသည်။

၂။ တနင်္သာရီတိုင်းဒေသကြီးအတွင်း ပုဂ္ဂလိက စက်မှုကဏ္ဍ ဖွံ့ဖြိုးတိုးတက်စေရန် နှင့် ဒေသဖွံ့ဖြိုးရေးအတွက် အထောက်အကူဖြစ်စေရန် ယုဇနကုမ္ပဏီအဖွဲ့အား တနင်္သာရီတိုင်းဒေသကြီးတွင် ဘိလပ်မြေစက်ရုံ တည်ဆောက်ခွင့်ပြုထားကြောင်း အမှတ်(၁) စက်မှုဝန်ကြီးဌာနမှ ထောက်ခံစာ နှင့် တနင်္သာရီတိုင်းဒေသကြီး အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေးကောင်စီမှ ဘိလပ်မြေ စက်ရုံ တည်ဆောက်ရေး နှင့်စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိပါကြောင်း အကြောင်းကြားစာတို့ကို တင်ပြထားပါသည်။

၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၃၆/၂၀၁၀) (၂၈-၁၀-၂၀၁၀) အစည်းအဝေးမှ အဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ " သဘောထားများ ပြည့်စုံပါက ကုန်သွယ်မှု မူဝါဒကောင်စီသို့ တင်ပြ လမ်းညွှန်မှုခံယူရန် " ဆုံးဖြတ်ခဲ့ပါသည်။

၄။ ဘိလပ်မြေထုတ်လုပ်ရာတွင် လိုအပ်သော ကုန်ကြမ်းပစ္စည်းများကို အောက်ပါဒေသ များမှ ရယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ကုန်ကြမ်းများကို အဆိုပါဒေသများမှ ပြည့်မီစွာ ထုတ်ယူနိုင်ကြောင်း သတ္တုတွင်းဝန်ကြီးဌာနမှ သဘောထားပြန်ကြားထားပါသည်။ နောက်ဆက်တွဲ (က)

